





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၄၇/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစိုးမင်းသန့်

(ခ) **အဘ အမည်** ဦးစိုးလွင်(ခ)တန်ကင်ချွန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လမတ(နိုင်)၀၀၂၂၇၀

(ဃ) **နေရပ်လိပ်စာ** အခန်းအမှတ်(၂)၊ အမှတ်(၉)၊ ၁၄လမ်း၊ ၆ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** အထည်အလိပ်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် နဝလီ(လက်ခစား)ရယူ၍ဆောင်ရွက်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း(ယခင်အထည်အလိပ်လုပ်ငန်း)ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ် (၈၂/က)၊ မရမ်းကုန်းအထည် စက်ရုံအမှတ်(၁)ရှိ မြေဧရိယာ ၄.၅၂၈ဧက (၁၈၂၉၁.၈၁ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း၃၂၀၀(US$၁.၂၂၀သန်းအပါအဝင် ကျပ်သန်းပေါင်းသုံးထောင့်နှစ်ရာခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၅ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ /၂၀၁၆(မနသ)
၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co.,Ltd.)သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်အထည်အလိပ်လုပ်ငန်း) ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ် (၈၂/က)၊ မရမ်းကုန်း အထည်စက်ရုံအမှတ်(၁)ရှိ မြေဧရိယာ ၄.၅၂ဧက (၁၈၂၉၁.၈၁စတုရန်းမီတာ) အားငှားရမ်း၍ အထည် အလိပ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းနှင့် နဝလီ(လက်ခစား)ရယူ၍ ဆောင်ရွက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၂၀၁၆) အစည်းအဝေးမှ ကနဦး ၂၅ နှစ် သက်တမ်း ကုန်ဆုံးမည့်အချိန်နီးမှသာ ကနဦးသက်တမ်းကို နှစ် ၅၀ သို့ တိုးမြှင့်ခွင့်ကို ပြန်လည်တင်ပြရန်နှင့် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မိသားစု စုစည်းစွမ်းအား ကုမ္ပဏီ လီမိတက် (Family United Power Co., Ltd.)ကို အထည်အလိပ် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းနှင့် နဝလီ (လက်ခစား) ရယူ၍ ဆောင်ရွက်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၁၄၇/၂၀၁၆ ကိုထုတ်ပေးလိုက်သည်။

၂။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက် (Family United Power Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီး မြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ခံစား နိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင် အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်း လွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက် ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ် လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း ကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံး အဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက် များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည် အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်အထည်အလိပ်လုပ်ငန်း)ပိုင် စက်ရုံ၊ မြေနှင့် အဆောက်အဦအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ကော်မရှင်၏ ခွင့်ပြုချက်နှင့်အညီ ကိုက်ညီအောင် ပြန်လည်ချုပ်ဆိုဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် ၁-၁၁-၂၀၁၁ နေ့မှစတင်၍ ကနဦး နှစ်၂၅ နှင့် သက်တမ်းတိုးမြှင့်မည့်ကာလမှာ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ကနဦး နှစ်၂၅ သက်တမ်းကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦးသက်တမ်းကို နှစ်၅၀ သို့ သက်တမ်းတိုးမြှင့်ခွင့်ကိုပြန်လည်တင်ပြရမည်။ ထိုသို့ စာချုပ်သက်တမ်း ကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် စက်ရုံ၊ မြေနှင့်အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ်တစ်နှစ်လျှင် ကျပ် ၁၁၂,၀၀၀,၀၀၀ (ကျပ်တစ်ရာ တစ်ဆယ့်နှစ်သန်းတိတိ)အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်အထည် အလိပ်လုပ်ငန်း)သို့ ပေးသွင်းရမည်။

၉။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မရမ်းကုန်းအထည်စက်ရုံအမှတ်(၁)၊ အမှတ် (၈၂/က)၊ ကျိုက်ဝိုင်းဘုရားလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်အထည်အလိပ်လုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ မိသားစု စုစည်းစွမ်းအားကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)တို့ ချုပ်ဆိုမည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို ကော်မရှင်၏ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုပြီးပါက လက်မှတ် ရေးထိုး၍ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၀။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၃။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့မပျက်မကွက် အစီရင်ခံရမည်။

၁၅။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

ကန့်သတ်



၁၆။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့**မပျက်မကွက်**အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကိုရယူရမည်။

၁၈။ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ် သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက် ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

၂၄/၈

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၃၁၂/၂၀၁၆( ၄၆၂.၁၁ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်အထည်အလိပ်လုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်(Family United Power Co., Ltd.)